




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၁၁၃/၉၈ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး လောက်တား

(ခ) အဘအမည် ဦး စိန်ဒိုင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/လရန (နိုင်) ၀၉၀၉၂၄

(ဃ) နေရပ်လိပ်စာ အမှတ် – ၆၈၊ ၁၆၆ လမ်း၊ တာမွေကြီး (ခ) ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ခိုင်ဖြိုးဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Kai Phyo Construction Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား လုံးရယ်သီးများ (LONGAN FRUITS) စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအင်း တိရစ္ဆာန်အစားအစာအသုံးချရေးနည်းပြ အခြေစိုက်စခန်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၅၁.၂ သန်း
(ကျပ်နှစ်ရာ့ငါးဆယ့်တစ်သန်း၊ နှစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ တပို့တွဲ လဆန်း ၁ ရက်။
(၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနပိုင် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ရေမအင်း၊ တိရစ္ဆာန် အစားအစာ အသုံးချရေး နည်းပြ အခြေစိုက်စခန်း ရှိ မြေ(၃၁၁)ဧက (၁၂၅၈၅၇၃.၄ စတုရန်းမီတာ) အား ငှါးရမ်း၍ လုံးရယ်သီးများ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက် အား (၂၆-၁၂-၉၇) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ (၈-၁-၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) အား လုံးရယ်သီးများ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၃/၉၈ ကို ထုတ်ပေး လိုက်သည်။

၂။ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ အသီး စတင် ထွက်ရှိသည့် (၅)နှစ်မြောက် ကာလမှ တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာနိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဓ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(င) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဓ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေ စနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက် အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ ပြည်ပတင်ပို့မှုမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရန်။

၄။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပ တင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန နှင့် အငှား ချထားခြင်း ခံရသူ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.) တို့ အကြား ချုပ်ဆိုသော မြေငှါး သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

၆။ မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန နှင့် ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)တို့ ချုပ်ဆိုမည့် မြေငှါးရမ်းခြင်း သဘောတူစာချုပ်၏ ငှါးရမ်းခြင်း ကာလမှာ စာချုပ် ချုပ်ဆိုသည့် နေ့မှစ၍ (၂၅)နှစ် ဖြစ်ပြီး ယင်းကာလထက် ကျော်လွန်ပါက တစ်ကြိမ်လျှင် (၅)နှစ် သက်တမ်းဖြင့် နှစ်ကြိမ်ထိ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ဖြင့် တိုးမြှင့် သတ်မှတ်နိုင်သည်။

၇။ မြေငှါးစာချုပ် လက်မှတ် ရေးထိုးသည့် နေ့တွင် Signature Bonus အဖြစ် ငွေကျပ် ၃သန်း (ကျပ်သုံးသန်းတိတိ) ကို မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနသို့ ပေးသွင်းရမည်။

၈။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ငှါးရမ်းမြေ (၃၁၁)ဧက အတွက် တစ်ဧကလျှင် တစ်နှစ်အတွက် ငှါးရမ်းခ အဖြစ် ငွေ ၂၀၀၀ကျပ် (ကျပ်နှစ်ထောင် တိတိ) နှုန်းဖြင့် ခြောက်လအတွက် စုစုပေါင်း ကျပ် ၃၁၁၀၀၀ (ကျပ် သုံးသိန်း တစ်သောင်း တစ်ထောင်တိတိ)ကို ခြောက်လ တစ်ကြိမ် ကြိုတင် ပေးသွင်းရမည်။ ပထမဆုံး အကြိမ် ပေးချေမည့် ခြောက်လ အတွက် မြေငှါးရမ်းခကို မြေငှါးစာချုပ် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့် နေ့တွင် ပေးချေရမည်။ နောင် လာမည့် နှစ်များအတွက် ခြောက်လ တစ်ကြိမ် မြေငှါးရမ်းခကို ပထမ အကြိမ် မြေငှါးရမ်းခငွေ ပေးချေသည့် နေ့မှ ခြောက်လပြည့်မြောက်သည့် နေ့မတိုင်မီ တစ်လ ကြိုတင် ပေးချေရမည်။ ငှါးရမ်းသည့် ကာလအတွင်း ငှါးရမ်းခ နှုန်းများကို (၅)နှစ် တစ်ကြိမ် ၁၅%ထက် မပိုစေပဲ နှစ်ဦးနှစ်ဘက် ညှိနှိုင်းရမည်။

၉။ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက်သည် မြေနှင့်တကွ အဆောက်အဦများ၊ စိုက်ပျိုးထားသော နှစ်ရှည်ပင်များနှင့် အခြား ဆက်နွယ်သော ပစ္စည်းများ အားလုံးကို ကောင်းမွန်သော အနေအထားဖြင့် မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာနသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ ခိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊

မီးဘေး အန္တရာယ် စသည်များ။ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။

၁၃။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မှောင်မောင် )
အတွင်းရေးမှူး
စာအမှတ်၊ ရကာ–၁/မ–၁၈၀/၉၇ (၂၀၀၆)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ဇန်နဝါရီလ ၂၁ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ ရုံး။
၄။ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၉။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၀။ လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၁။ မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စိုက်ပျိုးရေး လုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ လူ့ဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေး နှင့် ကုသရေး ဦးစီးဌာန။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ မန်နေဂျင်း ဒါရိုက်တာ၊ နိုင်ဖြိုး ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Kai Phyo Construction Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး